


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်မ နသ – ၁၉၉ / ၉၈ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာ လ ၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး အောင်မိုး

(ခ) အဘအမည် ဦး တင်ငွေ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မဘန (နိုင်) ၀၀၅၁၉၁

(ဃ) နေရပ်လိပ်စာ တိုက် (၆) ၊ အခန်း – ၃၀၁၊ ခ ပေါင်း ရိပ်သာ ၊ လှိုင်မြို့နယ် ၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဂိုး လ်ဒင်းဘလူး(မ်) အင်ဒတ်စထရီကုမ္ပဏီလီမိတက် (Golden Bloom Industry Co.,Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဆပ်ပြာ ၊ ခေါင်းလျှော်ရည် ၊ သွားတိုက်ဆေး နှင့်ယင်းတို့နှင့်ဆက်စပ်နေသည့်ပစ္စည်းများထုတ်လုပ်ခြင်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်– ၇၃ နှင့် ၇၅ ၊ မြေတိုင်း ရပ်ကွက်အမှတ်– ၂၃၊ ဒဂုံတောင်စက်မှုဇုန်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ( ၁၁.၄၂ ) သန်း
(ကျပ်တစ်ဆယ့်တစ်သန်းလေးသိန်းနှစ်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၉၄ /၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ တန်ဆောင်မုန်း လပြည့်ကျော် ၆ ရက်။
(၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.) တည်ထောင်၍ ဦးသန်းထွန်း၊ ဦးသန်းလွင်နှင့် ဒေါ်အေးရင်တို့ အမည်ဖြင့် မြေအသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် မြေကွက်အမှတ်(၇၃) နှင့် (၇၅)၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃) ဒဂုံတောင်၊ စက်မှုဇုန် ရန်ကုန်မြို့ရှိမြေ (၀.၃၃)ဧက (၁၃၃၅.၄၆ စတုရန်းမီတာ)နှင့် အဆောက်အဦးကို ငှါးရမ်း၍ ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့် ဆက်စပ်သည့် ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၉–၁၀–၉၈) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၂၂–၁၀–၉၈) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၇/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်(Golden Bloom Industry Co., Ltd.)အား ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့် ဆက်စပ်သည့် ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ–၁၉၉/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏

အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများ၊ ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဈ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့် စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေ ဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင် အထည် ဖော်ရမည်။

၇။ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန် အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ (Memorandum and Articles of Association)

၈။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှားချထားသူ ဒေါ်အေးရင်နှင့် အငှား ချထားခြင်းခံရသူ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်

ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၁။ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ။ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၂။ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.)သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှုအစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၃။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၀၀/၉၈ (၅၆၂၆) (၈) ။
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၉ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။

၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၅။ ဒါရိုက်တာ၊ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် (Golden Bloom Industry Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၂၀/၉၀(၅၁၁၅ )။
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက် ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ ဂိုးလ်ဒင်းဘလူး(မ်)အင်ဒတ်စထရီကုမ္ပဏီလီမိတက်တည် ထောင်၍ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေး နှင့်ယင်းတို့နှင့်ဆက်စပ်သည့်ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဂိုးလ်ဒင်းဘလူး(မ်)အင်ဒတ်စထရီကုမ္ပဏီ လီမိတက်( Golden Bloom Industry Co.,Ltd) တည်ထောင်၍ဆပ်ပြာ၊ ခေါင်းလျှော် ရည်၊ သွားတိုက်ဆေးနှင့်ယင်းတို့နှင့်ဆက်စပ်သည့်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာ ပါသည်။ ယင်းအဆိုပြုချက်ကို( ၉-၁၀-၉၀ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၁၀/၉၀ )ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါ သည်။ ယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူပြီး၊ အစိုးရ အဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက် ပစ္စည်း၊ ကုန်ကြမ်းနှင့်မော်တော်ယာဉ်များ ဝယ်ယူရန် Buy Back Agreement - (မူကြမ်း) နှင့် မြေနှင့်အဆောက်အဦငှားရမ်းခြင်းစာချုပ်(မူကြမ်း) များကို နောက်ဆက်တွဲ(၁) အဖြစ်ပေးပို့ထားပါသည်။

၂။ ၎င်းလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၂၃၆) သန်းအပါအဝင်စုစုပေါင်း ကျပ်(၁၁.၄၂)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၁၀.၀၀)သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ်(၀.၉၇)သန်း[အမေရိကန်ဒေါ်လာ (၀.၁၆၂)သန်း]၊ ကုန်ကြမ်းပစ္စည်းတန်ဖိုး ကျပ်(၀.၂၀)သန်း[အမေရိကန်ဒေါ်လာ (၀.၀၃၄)သန်း] နှင့်မော်တော်ယာဉ်များတန်ဖိုး ကျပ်(၀.၂၄)သန်း[အမေရိကန် ဒေါ်လာ(၀.၀၄၀)သန်း]တည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်း၊ ကုန်ကြမ်း

နှင့် မော်တော်ယာဥ်များကို စင်ကာပူနိုင်ငံ Vicomax Pte Ltd. မှ Buy-Back Agreement ဖြင့်ဝယ်ယူမည်ဖြစ်ပြီး ဆိုင်းငံ့ကာလ ( ၂ ) နှစ်နှင့် ပထမနှစ်တွင် အတိုးနှုန်း ( ၁၀ ) ရာခိုင်နှုန်း ၊ ဒုတိယနှစ်တွင် ( ၉ ) ရာခိုင်နှုန်း နှင့် တတိယနှစ်မှစ၍ ( ၈ ) ရာခိုင်နှုန်း ဖြင့် ( ၅ ) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ဦးသန်းထွန်း ၊ ဦးသန်းလွင်နှင့် ဒေါ်အေးရင်တို့အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင်အမှတ် ( ၇၃ ) ၊ ( ၇၅ ) အကွက်အမှတ် ( ၂၃ ) ဒဂုံတောင် ၊ စက်မှုဇုန် ၊ ရန်ကုန်မြို့ရှိ မြေ ( ၀.၃၃ ) ဧက [ ၁၃၃၅.၄၆ စတုရန်းမီတာ ] နှင့်အဆောက်အဦကို ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ထုတ်လုပ်မည့်လူသုံးကုန်ပစ္စည်းများ၏ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| စဥ် | အကြောင်းအရာ | ရေတွက်ပုံ | ပြည်တွင်း ( ၇၀ %) | | ပြည်ပ ( ၃၀ %) | |
|---|---|---|---|---|---|---|
| | | | ထုတ်လုပ်မှု ( ၀၀၀ ) | ရောင်းဈေး ကျပ် / ယူနစ် | ထုတ်လုပ်မှု ( ၀၀၀ ) | ရောင်းဈေး (US$ /ယူနစ်) |
| ၁ | ဆပ်ပြာ (70-100 gm) | ထုတ် | ၃၂၇.၆ | ၅၀.၀၀ | ၁၄၀.၄ | ၀.၁၅ |
| ၂ | ခေါင်းလျှော်ရည် (10 ml) | ထုတ် | ၄၃၆၈.၀ | ၅.၀၀ | ၁၈၇၂.၀ | ၀.၀၂ |
| ၃ | ခေါင်းလျှော်ရည် (250 ml) | ပုလင်း | ၄၃၆.၈ | ၁၀၀.၀၀ | ၁၈၇.၂ | ၀.၄၀ |
| ၄ | သွားတိုက်ဆေး (50 gm) | ယူနစ် | ၉၈၂.၈ | ၄၀.၀၀ | ၄၂၁.၂ | ၀.၁၀ |
| ၅ | သွားတိုက်ဆေး (100 gm) | ယူနစ် | ၃၉၃.၁ | ၇၅.၀၀ | ၁၆၈.၅ | ၀.၁၅ |

၅။ ဤလုပ်ငန်းအတွက်လိုအပ်သော ကုန်ကြမ်းကို ပြည်တွင်း ပြည်ပမှ ဝယ်ယူအသုံးပြုမည်ဖြစ်ပါသည်။ ထုတ်လုပ်မည့်ဆပ်ပြာကို Big Fresh ကုန်အမှတ်တံဆိပ်ဖြင့်လည်းကောင်း၊ ခေါင်းလျှော်ရည်ကို Sweet Heart ကုန်အမှတ်တံဆိပ်ဖြင့်လည်းကောင်း ၊ သွားတိုက်ဆေးကို Super White ကုန်အမှတ်တံဆိပ်ဖြင့်လည်းကောင်း ပြည်တွင်း ပြည်ပသို့ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၅၀.၇၀ | ၁.၂၀ | ၁၅၁.၉၀ |
| (ခ) အသုံးစရိတ် | ၁၄၇.၀၄ | ၀.၄၂ | ၁၄၇.၄၆ |
| (ဂ) အသားတင်အမြတ် | ၃.၆၆ | ၀.၇၈ | ၄.၄၄ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၀၂ |
| (ကျပ်သန်း) | ၁.၅၇ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၁၃.၇၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်ပြည်တွင်း မှဝန်ထမ်း (၇၁) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ အမှတ် (၁) စက်မှုဝန်ကြီး ဌာနသို့ သဘောထား မှတ်ချက်တောင်းခံရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်း ပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ၊ ပြည်ပမှ ချေး ငွေရယူခြင်းသည်နိုင်ငံ တော်နှင့်သက်ဆိုင်ခြင်း မရှိဘဲ ငွေချေးယူသူကုမ္ပဏီ၏တာဝန်သာဖြစ်ကြောင်း ၊ ချေး ငွေ ပြန်လည်ပေးဆပ်ရာတွင်လုပ်ငန်းမှရရှိသည့်တရားဝင်နိုင်ငံခြား ငွေဖြင့် ပေးဆပ်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/၁၈ (၁)(၄၇၄၀)/၉၀(၄၄၉ဒ)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉ ၉၀ ခု၊ ဩဂုတ် လ ၂၁ ရက်။

အကြောင်းအရာ။ __သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ__

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၀ ခုနှစ် ဩဂုတ်လ ၁၀ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၂၀၀/၉၀(၃၆၆၉)

Golden Bloom Industry Co., Ltd . မှ ရန်ကုန်မြို့၊ ဒဂုံတောင်ပိုင်း စက်မှုဇုန်တွင် စက်ရုံတည်ဆောက်၍ ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့်ဆက်စပ်သည့်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၂၁/၈/၉၀

ဝန်ကြီး ( )
( မြင့်ဆွေ၊ ဂုဏ်းအဆွဲမျုး )

__မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်__

ခိုင်/ * ၂၁၀၉၀

O/C

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်



**PROPOSAL OF THE INVESTOR TO MAKE**

**MYANMAR CITIZENS INVESTMENT IN THE**

**UNION OF MYANMAR**

# GOLDEN BLOOM INDUSTRY COMPANY LIMITED

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

ရက်စွဲ - ၁၂-၁၀-၉၈။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့် ထုတ်ပေးပါရန် လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရန်ကုန်မြို့၊ ဒဂုံတောင်စက်မှုဇုံရှိ ဦးသန်းထွန်းနှင့် ဦးသန်းလွင်တို့ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက ကျယ်ဝန်းသည့် မြေနေရာနှင့် ဒေါ်အေးရင် ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက အကျယ်အဝန်းရှိသော မြေနေရာကိုငှားရမ်းပြီး လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေး နှင့် ယင်းတို့နှင့် ဆက်စပ်နေသောပစ္စည်းများ ထုတ်လုပ်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါ သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို တင်ပြအပ်ပါသည်။

၂။ ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးဆုံးဖြတ်ချက် အရ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ ခွင့်ပြုနိုင်ရန်အတွက် ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ (၂၂)စုံကို ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုး
ဒါရိုက်တာ၊
ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

ရက်စွဲ – ၁၂–၁၀–၉၈။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့် ထုတ်ပေးပါရန် လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရန်ကုန်မြို့၊ ဒဂုံတောင်စက်မှုဇုံရှိ ဦးသန်းထွန်းနှင့် ဦးသန်းလွင်တို့ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက ကျယ်ဝန်းသည့် မြေနေရာနှင့် ဒေါ်အေးရင် ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက အကျယ်အဝန်းရှိသော မြေနေရာကိုငှားရမ်းပြီး လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေး နှင့် ယင်းတို့နှင့် ဆက်စပ်နေသောပစ္စည်းများ ထုတ်လုပ်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါ သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို တင်ပြအပ်ပါသည်။

၂။ ထိုသို့တင်ပြလျှောက်ထားရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးဆုံးဖြတ်ချက် အရ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို ဆက်လက်တင်ပြ ခွင့်ပြုနိုင်ရန်အတွက် ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာ (၂၂)စုံကို ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုး
ဒါရိုက်တာ၊
ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

ရက်စွဲ - ၅-၉-၉၈။

အကြောင်းအရာ။ **။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့် ထုတ်ပေးပါရန် လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရန်ကုန်မြို့၊ ဒဂုံတောင်စက်မှုဇုံရှိ ဦးသန်းထွန်းနှင့် ဦးသန်းလွင်တို့ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက ကျယ်ဝန်းသည့် မြေနေရာနှင့် ဒေါ်အေးရင် ပိုင်ဆိုင်သည့် (..၁၆၅)ဧက အကျယ်အဝန်းရှိသော မြေနေရာကိုငှားရမ်းပြီး လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေး နှင့် ယင်းတို့နှင့် ဆက်စပ်နေသောပစ္စည်းများ ထုတ်လုပ်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါ သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို တင်ပြအပ်ပါသည်။

၂။ ကျွန်တော်တို့၏ အဆိုပြုတင်ပြချက်အပေါ် ကနဦးစိစစ်မှုများ ပြုလုပ်ပြီးဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးသို့ ဆက်လက်တင်ပြခွင့်ပြုနိုင်ရန်အတွက် ကျွန်တော်တို့ ကုမ္ပဏီ၏အဆိုပြုလွှာ (၂၅)စုံကို ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုး
ဒါရိုက်တာ၊
ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

ရက်စွဲ - ၁၃-၈-၉၈။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့်ခွင့်ပြု မိန့်ထုတ်ပေးပါရန် လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရန်ကုန်မြို့၊ ဒဂုံတောင်စက်မှုဇုံရှိ ဦးသန်းထွန်းနှင့် ဦးသန်းလွင်တို့ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက ကျယ်ဝန်းသည့် မြေနေရာနှင့် ဒေါ်အေးရင် ပိုင်ဆိုင်သည့် (၀.၁၆၅)ဧက အကျယ်အဝန်းရှိသော မြေနေရာကိုငှားရမ်း ပြီး လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့် ဆက်စပ်နေသောပစ္စည်းများ ထုတ်လုပ်ရန်အတွက် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို တင်ပြအပ်ပါသည်။

၂။ ကျွန်တော်တို့၏ အဆိုပြုတင်ပြချက်အပေါ် ကနဦးစီစစ်မှုများ ပြုလုပ်နိုင်ရန်အတွက် အဆိုပြုချက် (၁၅)စုံကို ပူးတွဲပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မိုး
ဒါရိုက်တာ၊
ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

ရက်စွဲ – ၁၃–၈–၉၈။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက် ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီလီမိတက် အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့်ဆက်စပ်နေသည့်ပစ္စည်း ထုတ်လုပ်သည့်စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည့်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီသည် လုပ်ငန်းအတွက် လိုအပ်သောစက်ပစ္စည်းများ၊ စက်အရံပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများကို Buy-Back Agreement ဖြင့် ဝယ်ယူတင်သွင်းပြီး ပြန်လည်ပေးဆပ်သည့်အခါ အဆိုပါလုပ်ငန်းမှရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ ကျွန်တော်တို့၏ ကုမ္ပဏီသည် လုပ်ငန်းအတွက် ပြည်ပမှစက်ပစ္စည်းများ၊ စက်အရံပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများကို Buy-Back Agreement ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိပဲ ငွေချေးသူ၏ တာဝန်သာလျှင်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ ထို့အပြင် မြေငှားရမ်းခြင်းနှင့် ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၅။ ကျွန်တော်တို့ ကုမ္ပဏီမှ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် အမည်ဖြင့် ပြည်တွင်းတွင် ထုတ်လုပ်ပြီး ပြည်တွင်း/ပြည်ပတွင် ဖြန့်ဖြူးရောင်းချမည့် လူသုံးကုန်ပစ္စည်းများဖြစ်သော **Big Fresh** ကုန်အမှတ်တံဆိပ်ပါဆပ်ပြာ၊ **Sweet Heart** ကုန်အမှတ်တံဆိပ်ပါ ခေါင်းလျှော်ရည်၊ **Super White** ကုန်အမှတ်တံဆိပ်ပါ သွားတိုက်ဆေး စသည့်ပစ္စည်းများနှင့် ယင်းတို့နှင့် ဆက်စပ်နေသောပစ္စည်းများကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ရရှိပါက စာချုပ်စာတမ်း မှတ်ပုံတင် အက်ဥပဒေပါပြဋ္ဌာန်းချက်များနှင့်အညီ အဆိုပါ ကုန်အမှတ်တံဆိပ်များကို တစ်ဦးတည်းမူပိုင်သုံးစွဲခွင့်ရှိကြောင်း မှတ်ပုံတင်သွင်းကြေငြာ၍ ထုတ်လုပ်ဖြန့်ဖြူးရောင်းချနိုင်သည့် ပြည်တွင်း/ပြည်ပဈေးကွက်များ အသင့်ရရှိနေပြီးဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၆။ ယခုအဆိုပြုတင်ပြသည့် လုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးဖေအောင်မိုး
ဒါရိုက်တာ၊
ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
**ရန်ကုန်မြို့။**

နေ့စွဲ ။ ၁၃-၈-၉၈။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်တို့၏ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ ဆောင်ရွက်လိုပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်အနေဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပါရန် အောက်ဖော်ပြပါ အချက်များကို တင်ပြလျှောက်ထားအပ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီသည် ရန်ကုန်မြို့၊ ဒဂုံတောင် စက်မှုလက်မှု ဇရိယာတွင် တည်ရှိသည့် မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-ရ၃ နှင့် ရ၅ တွင် လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့် ဆက်စပ်နေသောပစ္စည်းများ ထုတ်လုပ်သည့် စက်ရုံတစ်ရုံကို တည်ထောင်ပြီး လိုအပ်သော စက်ပစ္စည်းနှင့် အချို့ကုန်ကြမ်းများကို VICOMAX PTE LTD., (Singapore) မှ ပေးပို့ရန် စီစဉ်ပြီးဖြစ်ပါသည်။ ပြည်တွင်း၌ ရနိုင်သည့် ကုန်ကြမ်းများကို ပြည်တွင်း၌ ဝယ်ယူပြီး ကုန်ချောများ ထုတ်လုပ်သွားမည်ဖြစ်ပါသည်။ ထွက်ရှိလာသည့် ကုန်ချောများကို ပြည်တွင်းပြည်ပ၌ ရောင်းချသွားမည်ဖြစ်ပါသည်။

၃။ အဆိုပါလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ ၂၃၆၅၁၂ အပါအဝင် စုစုပေါင်း ကျပ် ၁၁၄၁၉၀ရ၂/- ခန့် ဖြစ်မည်ဟု ခန့်မှန်းထားပါသည်။

၄။ အဆိုပါလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများနှင့် ကုန်ကြမ်းများကို စင်ကာပူနိုင်ငံ VICOMAX PTE LTD. မှ ဝယ်ယူပြီး ထွက်ရှိလာသည့် ကုန်ချောများကို ပြည်ပသို့တင်ပို့ရောင်းချရငွေမှ ပေးချေသွားမည်ဖြစ်ပါသည်။ စက်ပစ္စည်းများ ရောင်းချမည့် ကုမ္ပဏီနှင့် ပဏာမဆွေးနွေးမှုများ ပြုလုပ်ပြီးဖြစ်ပါသည်။ **Buy-Back Agreement** ကို ပူးတွဲတင်ပြထားပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ရသည့်အခါ အဆိုပါစာချုပ်ကို ချုပ်ဆို၍ ဝယ်ယူမည်ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်သောမြေကို ကျွန်တော်တို့၏ ဂိုးလ်ဒင်းဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် ဒဂုံမြို့သစ်တောင်ပိုင်း မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-ရ၃ နှင့် ရ၅၊ အကွက်မှမြေဧရိယာ ၀.၃၃ ဧကကို ယင်းမြေကွက်အား တရားဝင်ပိုင်ဆိုင်သည့် ဦးသန်းထွန်း၊ ဦးသန်းလွင်နှင့် ဒေါ်အေးရင်တို့ထံမှ ငှားရမ်းပြီး ကနဦး (၂၀)နှစ် ငှားရမ်း၍ လုပ်ငန်းဆောင်ရွက် သွားမည်ဖြစ်ပါသည်။ မြေငှားရမ်းခြင်း သဘောတူစာချုပ် မူကြမ်းကို ပူးတွဲတင်ပြထားပါသည်။

၆။ ကျွန်တော်တို့၏ ဂိုးလ်ဒင်းဘလူး(မ်) အင်ဒပ်စထရီ ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တည်ထောင်ရန်ဖြစ်ပြီး ကုမ္ပဏီ၏ ရှုံးခန်းကိုလည်း စက်ရုံဝင်း အတွင်း၌ပင် ဖွင့်လှစ်ရန် စီစဉ်ထားပါသည်။

ရ။ ယခုအဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအပေါ် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့် ၁၃ တို့အရ အောက်ဖော်ပြပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်ပြု ပါရန် လျှောက်ထားအပ်ပါသည်။

(၁) စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်၊

(၂) ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေအပေါ် သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်၊

(၃) ထုတ်လုပ်သည့်ပစ္စည်းမှ နိုင်ငံခြားငွေဖြင့် ရရှိသော ဝင်ငွေအပေါ် ကော်မရှင်မှ ကာလ အကန့်အသတ်တစ်ခုပေး၍ ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန်သက်သာခွင့်၊

(၄) အဆိုပါစီးပွားရေးလုပ်ငန်းသည် နိုင်ငံတော်အတွက် လိုအပ်သည့် နိုင်ငံခြားငွေကို ရှာဖွေပေး သည့် လုပ်ငန်းဖြစ်ပါသဖြင့် ဝင်ငွေခွန်သက်သာခွင့်ကို ကော်မရှင်မှ သတ်မှတ်ချက်တစ်ခု ဖြင့် သင့်လျော်သောကာလအထိ ခံစားခွင့်၊

(၅) သတ်မှတ်ထားသည့် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရံပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးဖြစ်စေ၊ ကင်းလွတ်ခွင့်၊

(၆) လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်နှင့် သွားကို ဆေး ထုတ်လုပ်ရန် တင်သွင်းလာသည့် ကုန်ကြမ်းပစ္စည်းများနှင့် ထုပ်ပိုးပစ္စည်းများအပေါ်တွင် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ကာလအတွင်း အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ နှစ်မျိုးလုံးဖြစ်စေ၊ ကင်းလွတ်ခွင့်၊

(၇) လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်နှင့် သွားတိုက်ဆေး ထုတ်လုပ် သည့် ကုန်ပစ္စည်းများကို ပြန်လည်တင်ပို့ရာတွင် ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ကာလအတွင်း အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးဖြစ်စေ၊ ကင်းလွတ်ခွင့်၊

၈။ ကျွန်တော်တို့၏ ဂိုးလ်ဒင်းဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် မှ ပြည်တွင်းတွင် ထုတ် လုပ်ရောင်းချသော လူသုံးကုန်ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များခံစားခွင့်ပြုနိုင်ရေးအတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ တပါတည်း လျှောက်ထားခွင့် ပြုရန် တင်ပြအပ်ပါသည်။

၉ သို့ဖြစ်ပါ၍ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါစာရွက်စာတမ်းများကို ပူးတွဲတင်ပြလျက် လေးစားစွာတင်ပြလျှောက်ထားအပ်ပါသည်။

(၁) ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်ပုံစံ၊
(၂) Buy-Back Agreement (Draft)
(၂) မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)
(၃) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊ (မူကြမ်း)

လေးစားစွာဖြင့်၊

ဦးအောင်မိုး
ဒါရိုက်တာ၊
ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်။



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

သို့၊

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ - ၁၃-၈-၉၈။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါ အချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

| | | |
|---|---|---|
| (က) | အမည် | ဦးအောင်မိုး |
| (ခ) | အဘအမည် | ဦးတင်ဋ္ဌေ |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/မဘန (နိုင်) ၀၀၅၁၉၁ |
| (ဃ) | နေရပ်လိပ်စာ | တိုက် (၆)၊ အခန်း ၃၀၁၊ ခပေါင်းရိပ်သာ၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး၊ဘာသာ | မွန်-မြန်မာ၊ ဗုဒ္ဓ |
| (စ) | အဖွဲ့အစည်းအမည် | ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့်ဆက်စပ်နေသည့်ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | မြေကွက်အမှတ်-ရ၃ နှင့် ရ၅၊ မြေတိုင်းရပ်ကွက်အမှတ်-(၂၃)၊ စက်မှုလက်မှုဇုံ၊ ဒဂုံမြို့သစ်တောင်ပိုင်း၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁) ------------------ (၂) ---------------
------------------ ---------------
------------------ ---------------

(ခ) အဘအမည်(၁) ------------------ (၂) ---------------
------------------ ---------------
------------------ ---------------

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁) ---------------- (၂) ----------------

(ဃ) နေရပ်လိပ်စာ(၁) ---------------- (၂) ----------------

---------------- ----------------

---------------- ----------------

(င) လူမျိုး၊ဘာသာ(၁)---------------- (၂) ----------------

---------------- ----------------

---------------- ----------------

(စ) အဖွဲ့အစည်းအမည်- ----------------------------------------

(ဆ) လုပ်ငန်းအမျိုးအစား- ----------------------------------------

----------------------------------------

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ်- ----------------------------------------

----------------------------------------

----------------------------------------

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ခုထက်ပိုပါကသီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း — လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့် ဆက်စပ်နေသည့်ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း
(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကို ဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

----------------------------------------

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

----------------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

----------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင်

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း ----------------------------------------

(ဂ) လီမိတက်ကုမ္ပဏီ အများနှင့်မသက်ဆိုင်သော ကုမ္ပဏီ

(ဃ) သမဝါယမအသင်း ------------------------------------

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏အမည်၊ နေရပ်လိပ်စာများနှင့်ရာထူးတို့ကို ပူးတွဲတင်ပြရန်) (နောက်ဆက်တွဲ-က)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့ကထည့်ဝင်မည့် အစုငွေအချိုးအစားနှင့်ပမာဏ

------------------------------------------------------------

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား ------------------------

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ------------------------

(နေရာမလုံလောက်ကသီးခြားစာရွက်ဖြင့်ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမတည်ငွေရင်း ကျပ်သန်း (၅၀) - (တစ်စုလျှင် ကျပ် ၁၀၀၀/-တန်အစုရှယ်ယာ (၅၀၀၀၀)စု

(ခ) အစုရှယ်ယာအမျိုးအစား သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ၁၀၀၀၀၀၀၀ ကျပ်
(ကျပ် ၁၀၀၀/- တန် အစုရှယ်ယာပေါင်း ၁၀၀၀၀ စု)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ(ကျပ်)

(၁) ငွေပမာဏ ၁၀၀၀၀၀၀၀ ကျပ်
(နိုင်ငံခြားမတည်ငွေပါဝင်ပါကသီးခြားဖော်ပြရန်)

(၂) စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (အသေးစိတ်ဇယား-၁) ၉၇၄၈၂၀ ကျပ် (အမေရိကန်ဒေါ်လာ ၁၆၂၄၇၀)

(၃) အဆောက်အအုံ/မြေ -

(၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးပမာဏ

(၅) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ (အသေးစိတ်ဇယား -၄) ၂၀၄၂၅၂ ကျပ် (အမေရိကန်ဒေါ်လာ ၃၄၀၄၂)

| | | |
|---|---|---|
| (၆) | မော်တော်ကား<br>(အသေးစိတ်ဇယား-၂) | ၂၄၀၀၀၀ကျပ် (အမေရိကန်ဒေါ်လာ ၄၀၀၀၀) |
| | စုစုပေါင်း | ၁၃၄၁၉၀၈၂ကျပ် (အမေရိကန်ဒေါ်လာ ၂၃၆၅၁၂ အပါအဝင်) |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည်

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (၁) | စက်ပစ္စည်းများစက်ကိရိယာများ စသည့်ပစ္စည်းတို့၏တန်ဖိုးပမာဏ | ၉၇၄၈၂၀ | ၁၆၂၄၇၀ |
| (၂) | ပရိဘောဂ | - | - |
| (၃) | မော်တော်ကား | ၂၄၀၀၀၀ | ၄၀၀၀၀ |
| (၄) | ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူပစ္စည်းများ၏တန်ဖိုး (အသေးစိတ်ဇယား-၄) | ၂၀၄၂၅၂ | ၃၄၀၄၂ |
| (၅) | ကျွမ်းကျင်မှုနည်းပညာရပ်များ ၏တန်ဖိုးပမာဏ | | |
| | စုစုပေါင်း | ၁၄၁၉၀၇၂ | ၂၃၆၅၁၂ |

(ဂ) တည်ဆောက်မှုကာလ — (၁) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ — (၁) လ

(င) တည်ဆောက်မှုစတင်မည့်အချိန် — ခွင့်ပြုမိန့်ရပြီး (၁)လအတွင်း

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား — လူသုံးကုန်ပစ္စည်းများဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့်ဆက်စပ်သည့်ပစ္စည်းများ ထုတ်လုပ်သည့်လုပ်ငန်း၊

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ — အမှတ်-၈၃ နှင့် ၈၅၊ အကွက်အမှတ်-၂၃ ဒဂုံတောင်စက်မှုဇုံ၊ ရန်ကုန်မြို့။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — ခေတ်မီစက်ကရိယာများဖြင့် ပြည်တွင်း၌ထုတ်လုပ်ခြင်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်–

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | (၄၂၀၀) ဂါလံ |
| ၂။ | -------- | -------- |
| ၃။ | -------- | -------- |

(င) နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | (KVA 100) |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ---------- |
| ၃။ | ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ---------- |
| ၄။ | သဘာဝဓာတ်ငွေ့သုံးစက်အား | ---------- |
| ၅။ | ပေးပို့သည့်အခြားအား (ရေအား/လေအားစသည်များ) | ---------- |

(စ) နှစ်စဉ်ရေလိုအပ်ချက် (၁၀၀၀၀၀) ဂါလံ
(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်) (၂၈၅) ဂါလံ/တစ်ရက်

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် ----------------------

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး (ကျပ်ထောင်ပေါင်း) |
|---|---|---|---|---|
| ၁။ | အဓိကကုန်ကြမ်း | | | |
| | (၁) အသေးစိတ်ဇယား | | (ဇယား– ) | |
| | (၂) | | | |
| | (၃) | | | |
| ၂။ | အထောက်အကူကုန်ကြမ်း | | | |
| | (၁) အသေးစိတ်ဇယား | | | |
| | (၂) | | | |
| ၃။ | စက်သုံးဆီ/ဓာတ်ငွေ့များ | | | |
| | (၁) စက်သုံးဆီ | ဂါလံ | ၄၂၀၀ | ၈၄၀၀၀ |
| | (၂) | | | |

(ဇ) အဆောက်အအုံလိုအပ်ချက် ၁၂၀' x ၅၀' စက်ရုံ (၁)လုံး
၈၀' x ၅၀' ဂိုဒေါင် (၁)လုံး

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် စက်မှုမြေ ၀.၃၃ ဧက
(၁၄၄၀၀ စတုရန်းပေ)

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| (၁) အသေးစိတ်ဇယားဖြင့် ဖော်ပြပြီး | | (ဇယား- ) | |
| (၂) | | | |
| (၃) | | | |

(ဋ) ရောင်းချမည့်နည်းစနစ် ထွက်ရှိလာမည့် ကုန်ချောများအနက် ၇၀% ကို ပြည်တွင်း၌ရောင်းချပြီး ၃၀% ကို စင်္ကာပူနိုင်ငံရှိ VICOMAX PTE LTD. သို့ ပြန်လည်တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | သိန်း ၁၀၀ | ၂၃၆၅၁၂ |
| (ခ) | လိုအပ်မည့်နိုင်ငံခြားသုံးငွေ | အသေးစိတ်ဇယား (၉) | |
| (ဂ) | ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | အသေးစိတ်ဇယား (၈) | |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | အသေးစိတ်ဇယား (၈) | |
| (င) | နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | အသေးစိတ်ဇယား (၈) | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ-

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ဇယား - ဖြင့်အသေးစိတ် ဖော်ပြထားပါသည်။ | |

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ-

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|

(ဎ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုလုပ်နိုင်သော ဖြစ်ရပ်များ (၆)လထက် ကျော်လွန်ပေါ်ပေါက်ခြင်း၊

၁၅-၂ ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ စာချုပ်ရပ်စဲခြင်းသည် အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၆။ ပတ်ဝန်းကျင် ညစ်ညမ်းမှုကို ထိန်းသိမ်းကာကွယ်ခြင်း။

၁၆-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေနေရာတွင် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ လေထု၊ ရေထု၊ မြေထု၊ သဘာဝ အန္တရာယ်များဖြစ်ပေါ်ခြင်းတို့ မရှိစေရန် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ခြင်း လုပ်ငန်းများကို စနစ်တကျ ထားရှိဆောင်ရွက်ရမည်။

၁၇။ အကြောင်းကြားခြင်း။

၁၇-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက စာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ ရက်ပေါင်း (၃၀) သုံးဆယ်အတွင်းစာဖြင့် တရားဝင် အကြောင်းကြားရမည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူ လက်ခံပါသဖြင့် အောက်ပါအသိသက်သေ လူကြီးမင်းများ၏ ရှေ့မှောက်တွင် အငှားချထားခြင်း ခံရသူတို့ကိုယ်တိုင် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

ဦးသန်းထွန်း၊ ဦးသန်းလွင်
(အငှားချထားသူ)

ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်
ဦးအောင်မိုး၊ ဒါရိုက်တာ
(အငှားချထားခြင်းခံရသူ)

အသိသက်သေ

# မြေနှင့် အဆောက်အဦး ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

ဤမြေနှင့် အဆောက်အဦး ငှားရမ်းခြင်းသဘောတူစာချုပ် (နောင်တွင် အငှားစာချုပ်ဟု ခေါ်တွင်စေရမည်)ကို ၁၉၉၈ ခုနှစ်၊ လ၊ ရက်နေ့တွင် ရန်ကုန်မြို့အရပ်၌ အောက်ပါအတိုင်း ပြုလုပ်ချုပ်ဆိုကြသည်မှာ- မြေအမည်ပေါက် ပိုင်ဆိုင်သူများဖြစ်ကြသော ဒေါ်အေးရင် (ဘ) ဦးထွန်းတင်၊ (မှတ်ပုံတင်အမှတ် TTE-၀၅၁၃၄၀) သည် ရန်ကုန်တိုင်း၊ လှိုင်မြို့နယ်၊ ရန်ကုန်-အင်းစိန်လမ်းမကြီး၊ ၁၃-ရပ်ကွက်၊ အိမ်အမှတ်-၂၁၀ ၌နေထိုင်သူ (နောင်တွင် "အငှားချထားသူ")ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၄င်းကိုယ်တိုင်နှင့် ၄င်း၏အမွေဆက်ခံသူများ၊ ဥပဒေအရခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်)က "အငှားချထားသူများ" အဖြစ် တစ်ဘက်-

နှင့်

ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်၊ ရန်ကုန်တိုင်း၊ ဒဂုံမြို့ သစ်တောင်ပိုင်း၊ စက်မှုလက်မှုဇုံ၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၅ တွင်တည်ရှိသော မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားမည့် မြန်မာကုမ္ပဏီ (နောင်တွင် "အငှားချထားခြင်းခံရသူ") ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်) ၏ကိုယ်စား ဦးအောင်မိုး၊ ဒါရိုက်တာက "အငှားချထားခြင်းခံရသူ" အဖြစ်အခြားတစ်ဘက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦးသဘောတူ စာချုပ် ချုပ်ဆိုကြပါသည်။

၁။ နိဒါန်း

၁-၁ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် မြေငှားရမ်းခြင်းနှင့် စပ်လျဉ်း၍ အဖိုးစားနားအဖြစ် အောက်ပါသဘောတူညီချက်တို့ကို ပြုလုပ်ကြပါသည်။

၁-၂ ဤသဘောတူညီစာချုပ်အရ အငှားချထားခြင်းခံရသူ ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်သည် အငှားချထားသူ ဒေါ်အေးရင် ပိုင် ရန်ကုန်တိုင်း၊ ဒဂုံတောင်မြို့နယ်၊ စက်မှုဇုံ၊ အမှတ် (၂၃)၊ မြေကွက်အမှတ် (၅၅) ဟုခေါ်တွင်သည့် မြေဧရိယာ အကျယ်အဝန်း (၀.၁၆၅)ဧကရှိ မြေကွက်နှင့် ယင်းမြေကွက်ပေါ်ရှိ ၈၀'x၆၀' ဂိုဒေါင် အပါအဝင် အကျိုးခံစားခွင့် အရပ်အရပ် (နောင်တွင်ပစ္စည်းဟု ခေါ်တွင်စေရမည်) ကို ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များအတိုင်း ငှါးရမ်းပြီး လူသုံးကုန်ပစ္စည်းများ ဖြစ်သည့် ဆပ်ပြာ၊ ခေါင်းလျှော်ရည်၊ သွားတိုက်ဆေးနှင့် ယင်းတို့နှင့်ဆက်စပ်နေသော ပစ္စည်းများ ထုတ်လုပ်ရန်အတွက် ငှားရမ်းရန်သဘောတူကြပါသည်။ ယင်းမြေနှင့် ပတ်သက်သော အထောက်အထားမြေပုံများကို နောက်ဆက်တွဲ(၁-က)အဖြစ် ဖော်ပြထားပါသည်။

၂။ အာမခံချက်နှင့် ကိုယ်စားပြုခြင်း

အငှားချထားသူသည် အငှားချထားသည့်မြေကို တရားဝင်ပိုင်ဆိုင်မှုရှိကြောင်း တာဝန်ယူအာမခံပါသည်။ အငှားချထားခြင်းခံရသူသည် စာချုပ်ကိုအကောင်အထည်ဖေါ်ရန်ငွေကြေးအင်အားပြည့်စုံသူဖြစ်ပါသည်။ ဤစာချုပ်တွင် လက်မှတ်ရေးထိုးသူ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ် ချုပ်ဆိုရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့် ပြည့်စုံသူများဖြစ်ကြောင်း အာမခံပါသည်။

၃။ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

အငှားချထားခြင်းခံရသူ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

၃-၁ ငှားရမ်းခပေးချေမှုနှင့် ပတ်သက်၍ ဖော်ပြထားသောနေ့ရက်များ၊ သတ်မှတ်ချက်များအတိုင်းငှားရမ်းခကို ပေးရမည်။

၃-၂ အငှားချထားသူ၏ စာဖြင့်ကြိုတင်ခွင့်ပြုချက်မရဘဲ မြေအားလုံး (သို့မဟုတ်) တစ်စိတ်တစ်ဒေသကို ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းရောင်းချခြင်း မပြုလုပ်ရ။

၃-၃ မြေအားလုံး (သို့မဟုတ်) တစ်စိတ်တစ်ဒေသပေါ်တွင် လုပ်ဆောင်ချက်အားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ကြောင်း အာမခံရမည်။

၃-၄ အငှားချထားခြင်းခံရသူသည် အငှားချထားသည့်မြေနှင့် စပ်လျဉ်း၍ မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို ပေးဆောင်ရမည်။

၃-၅ အငှားချထားခြင်းခံရသူသည် စာချုပ်ပါငှားရမ်းသည့်ကာလ ကုန်ဆုံးသည့်အခါ ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကို ပြန်လည်ရယူပိုင်ခွင့်ရှိစေရမည်။

၄။ အငှားချထားသူ၏ တာဝန်ဝတ္တရားများ

အငှားချထားသူ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

၄-၁ အငှားချထားသည့်သူသည် အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ အကျိုးခံစားခွင့်အရပ်အရပ်တို့ကို အငှားချထားသူသို့ အေးချမ်းသာယာစွာ လွှဲပြောင်းပေးအပ်ရမည်။

၄-၂ အငှားချထားသူသည် ဤငှားရမ်းခြင်း စာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါဖြစ်စေ အငှားချထားသည့်မြေနှင့် ယင်းမြေပေါ်ရှိ မရွှေ့မပြောင်းနိုင်သော ပစ္စည်းများကို အဖိုးစားနားမပါရှိဘဲ ပြန်လည်လွှဲပြောင်း ရယူပိုင်ခွင့်ရှိစေရမည်။

၄-၃ အငှားချထားသည့်မြေအတွက် မြေခွန်ကို ပေးဆောင်ရမည်။

၅။ လွှမ်းမိုးသောဥပဒေ

၅-၁ ဤစာချုပ်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော် ဥပဒေ နည်းဥပဒေ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဖြစ်စေရမည်။ ထို့အပြင် ဤစာချုပ်နှင့်စပ်လျဉ်းသော ကိစ္စအရပ်ရပ်တွင် မြန်မာနိုင်ငံ တရားရုံး၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

၆။ ငှားရမ်းကာလ

၆-၁ ငှားရမ်းကာလကို စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ကနဦး (၂၀)နှစ်ကာလ သတ်မှတ်ပါသည်။ အဆိုပါ သက်တမ်းကာလကုန်ဆုံးပြီး မြေငှားသက်တမ်းကို တိုးမြှင့်လို ပါက နှစ်ဦးနှစ်ဘက် သဘောတူညီချက်နှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် ထပ်မံ၍ (၅)နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့်နိုင်ခွင့် ရှိစေရမည်။

၇။ ငှားရမ်းခနှုန်း

၇-၁ ဤစာချုပ်၏ မြေငှားရမ်းခနှုန်းကို တစ်လလျှင် ကျပ် ၅၀၀၀၀/- (ကျပ် ငါးသောင်းတိတိ) သတ်မှတ်ရန် သဘောတူကြသည်။ ငှားရမ်းခကို (၅)နှစ်တစ်ကြိမ် (၁၅)ရာခိုင်နှုန်းထက်မများသော ပမာဏကို တိုးမြှင့်ရန် သဘောတူကြပါသည်။

၈။ ငွေပေးချေရန်နည်းလမ်းများ

၈-၁ မြေငှားရမ်းခကို အပိုဒ် (၇-၁) တွင် ဖော်ပြထားသည့်နှုန်းဖြင့် ပေးချေရမည်။ ငွေပေးချေမှုကို ပထမနှစ်တွင် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့၌ (၁)နှစ်စာ ကြိုတင်ပေးချေပြီး ကျန်နှစ်များအတွက် နှစ်စဉ် (၂)ပတ်ကြိုတင်၍ (၁)နှစ်စာ ကြိုတင်ပေးရန် သဘောတူကြပါသည်။

၉။ သယံဇာတများ

၉-၁ ဤငှားရမ်းစာချုပ်အရ လုပ်ငန်းဆောင်ရွက်စဉ် ယင်းမြေပေါ် မြေအောက်မှ သတ္တုသယံဇာတများ အပါအဝင် အဖိုးတန်ရတနာများကို မမျှော်လင့်ဘဲတွေ့ရှိလာပါက အငှားချထားခြင်းခံရသူနှင့် မသက်ဆိုင်စေဘဲ အငှားချထားသူနှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး နိုင်ငံတော်အစိုးရသို့ အကြောင်းကြားရမည်။

၁၀။ ပျက်ကွက်မှု

၁၀-၁ အငှားချထားခြင်းခံရသူသည် မည်သည့်အကြောင်းကြောင်းကြောင့်မဆို ဤစာချုပ်ပါစည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်၊ ၎င်းအပြင် ယင်းပျက်ကွက်မှုအတွက် အငှားချထားသူက ယင်းသို့မဆောင်ရွက်မှု (သို့မဟုတ်) မလိုက်နာမှုကို ပြုပြင်ဆောင်ရွက်ရန်အပြင် အကြောင်းကြားသည့်အချိန်မှ ရက်(၃၀) သုံးဆယ်အတွင်း ဆောင်ရွက်ရန်ပျက်ကွက်လျှင် အငှားချထားသူသည် မြေပေါ်သို့လွတ်လပ် စွာပြန်လည်ဝင်ရောက်၍ မြေပိုင်ဆိုင်မှုကို ရယူနိုင်ခွင့် ရှိစေရမည်။ သို့ရာတွင်ယင်းသို့ မြေပေါ်ပြန်လည်ဝင်ရောက်ခွင့်သည် အငှားချထားခြင်းခံရသူထံမှ ယင်းသို့ စာချုပ်ရုပ်စဲသည့် (သို့မဟုတ်) အငှားချထားသူက ဤစာချုပ်ပါအခြား စည်းကမ်းများနှင့် သတ်မှတ်ချက်များကို ချိုးဖောက်သည့်နေ့အထိ အငှားချထားခြင်းခံရသူက ပေးရန်ရှိသောငှားခများ (သို့မဟုတ်) ငွေကြေးများကိုပြန်လည် တောင်းခံခြင်းအတွက် အငှားချထားသူအား အဟန့်အတားမဖြစ်စေရ။

၁၁။ အကျိုးသက်ရောက်သည့်နေ့

၁၁-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့ တရားဝင်အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၂။ အငြင်းပွားမှုဖြေရှင်းခြင်း

စာချုပ်ပါ စည်းကမ်းချက်များနှင့် ပတ်သက်၍ အငြင်းပွားမှု ပေါ်ပေါက်လာပါက အောက်ပါအတိုင်း ဆောင်ရွက်ရမည်။

၁၂-၁ နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ စေ့စပ်ဆွေးနွေးခြင်း နည်းလမ်းဖြင့် ဆောင်ရွက်ရမည်။

၁၂-၂ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတရာ ဖြစ်ပေါ်လာပါက စာချုပ်ဝင် ပုဂ္ဂိုလ်များအကြား နှစ်ဦးနှစ်ဖက် ချစ်ကြည်ရင်းနှီးစွာဖြင့် ညှိနှိုင်းဖြေရှင်းဆောင်ရွက်ရမည်။ ယင်းသို့ဖြေရှင်းသော်လည်း ကြေအေးပြီးပြတ်မှုမရှိပါက စာချုပ်ဝင်ပုဂ္ဂိုလ်တစ်ဖက်စီမှ ခုံသမာဓိလူကြီးတစ်ဦးစီရွေးချယ်ခန့်ထား၍ ယင်းခုံသမာဓိလူကြီးများနှစ်ဘက်သဘောတူသည့် ဒိုင်လူကြီးတစ်ဦးကို ရွေးချယ်ခန့်ထားရမည်။ ဒိုင်လူကြီး၏ အဆုံးအဖြတ်သည် အပြီးအပြတ်ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်ရာတွင် မြန်မာနိုင်ငံ အနုညာတ စီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေအမှတ်-၄/၁၉၄၄ ခုနှစ်)ပါ ပြဋ္ဌာန်းချက်များနှင့်အညီ နည်းလမ်းတကျလိုက်နာဖြေရှင်း ဆောင်ရွက်ကြရန် သဘောတူညီကြပါသည်။

၁၂-၃ အနုညာတစီရင်ဆုံးဖြတ်ရမည့်နေရာမှာ ရန်ကုန်မြို့တွင် တည်ရှိစေရမည်။ အမှု၏ ကုန်ကျစရိတ်ကို အမှုရှုံးသူက ကျခံဆောင်ရွက်စေရမည်။

၁၃။ မလွှဲမရှောင်နိုင်ဖြစ်ရပ်များ။

၁၃-၁ မလွှဲမရှောင်နိုင် ဖြစ်ရပ်များနှင့် စပ်လျဉ်း၍ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ လေမုန်တိုင်းကျခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ မြေငလျင်တုန်လှုပ်ခြင်း အစရှိသည့် အစိုးမရနိုင်သည့် ဖြစ်ရပ်များကြောင့် တစ်ဖက်တစ်ဖက်မှ စာချုပ်ပါတာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ပါက ၄င်းအပေါ်တွင် မည်သည့်တာဝန်မျှ မရှိစေရ။ သို့ရာတွင် အဆိုပါ မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်ပေါ်ပေါက်ခြင်းကို ဖြစ်ပေါ်သည့်အချိန်မှ (၇)ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ အကြောင်းကြားစာကို လက်ခံရရှိသူမှ မလွှဲမရှောင်နိုင်သည့်ဖြစ်ရပ်များကို သဘောတူလျှင် ယင်းမလွှဲမရှောင်နိုင်သည့်ကာလကို စာချုပ်ပါသက်တမ်းကာလတွင် ထည့်သွင်းရေတွက်ခြင်း မပြုရန် သဘောတူညီကြပါသည်။

၁၄။ စာချုပ်ပြင်ဆင်ခြင်း။

၁၄-၁ စာချုပ်ပြင်ဆင်ခြင်းကိစ္စနှင့် စပ်လျဉ်း၍ ဤစာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း ပြောင်းလဲခြင်း၊ ထပ်မံဖြည့်စွက်ခြင်း ပြုလိုပါက အငှားချထားသူနှင့် အငှားချထားခံရသူတို့ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်အရသာ ပြုလုပ်နိုင်သည်။

၁၄-၂ စာချုပ်ပြင်ဆင်ခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။

၁၅။ စာချုပ်ရပ်စဲခြင်း

၁၅-၁ အောက်ပါအကြောင်းခြင်းရာများ တစ်ခုခုဖြစ်ပေါ်ပါက ဤသဘောတူစာချုပ်ကို ရပ်စဲရမည်။

(၁) ကုမ္ပဏီသည် လုပ်ငန်းသက်တမ်းကာလအတွင်း ကြီးစွာဆက်တိုက် ဆုံးရှုံးမှုများပေါ်ပေါက်နေခြင်း၊

(၂) အခြားတစ်ဖက်က သဘောတူစာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန် ပျက်ကွက်ခြင်း၊

(၃) ကုမ္ပဏီ၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း၊

(၄) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုလုပ်နိုင်သော ဖြစ်ရပ်များ (၆)လထက် ကျော်လွန်ပေါ်ပေါက်ခြင်း၊

၁၅-၂ ပြည်ထောင်စု မြန်မာနိုင်ငံတော် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ စာချုပ်ရပ်စဲခြင်းသည် အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၆။ ပတ်ဝန်းကျင် ညစ်ညမ်းမှုကို ထိန်းသိမ်းကာကွယ်ခြင်း။

၁၆-၁ အငှားချထားခြင်းခံရသူသည် အငှားချထားသည့် မြေနေရာတွင် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ညစ်ညမ်းမှု၊ လေထု၊ ရေထု၊ မြေထု၊ သဘာဝ အန္တရာယ်များဖြစ်ပေါ်ခြင်းတို့ မရှိစေရန် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ခြင်း လုပ်ငန်းများကို စနစ်တကျ ထားရှိဆောင်ရွက်ရမည်။

၁၇။ အကြောင်းကြားခြင်း။

၁၇-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက စာချုပ်ဝင် တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ ရက်ပေါင်း (၃၀) သုံးဆယ် အတွင်းစာဖြင့် တရားဝင် အကြောင်းကြားရမည်။

အထက်ဖော်ပြပါ စည်းကမ်းချက်များကို သဘောတူ လက်ခံပါသဖြင့် အောက်ပါအသိသက်သေ လူကြီးမင်းများ၏ ရှေ့မှောက်တွင် အငှားချထားခြင်း ခံရသူတို့ကိုယ်တိုင် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| | |
|---|---|
| ဒေါ်အေးရင်<br>(အငှားချထားသူ) | ဂိုးလ်ဒင်း ဘလူး(မ်) အင်ဒတ်စထရီ ကုမ္ပဏီ လီမိတက်<br>ဦးအောင်မိုး၊ ဒါရိုက်တာ<br>(အငှားချထားခြင်းခံရသူ) |

<u>အသိသက်သေ</u>




# မြေငှားစာချုပ်

## မူရင်း

2 8 NOV 1997

၁၉၉၇ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် ၃၈ (စက်မှု) ၁၅၆၂/၉၇ အရ၊ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့် စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ______ မြို့နေ၊ ဦး ______ ၏၊ သား/သမီး ဖြစ်သော ______ (ဓာ/ဒေါ်) ______ အမျိုးသားမှတ်ပုံတင်အမှတ် TTE-090190 (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၅၉ ခုနှစ်၊ တန်ဆောင်မုန်း လဆန်း/လပြည့်ကျော် ၁၄ ရက်နေ့၊ ၁၉ ၉၇ ခုနှစ်၊ ( နိုဝင်ဘာ လ ၂၈ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက် အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြား အခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ တတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းပြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့် အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၂၈.၁၁.၉၇ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၂ ခုနှစ် နိုဝင်ဘာ လ ၂၇ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၁၈၀ ပြား – ( ကျပ်တစ်ရာ့ရှစ်ဆယ် ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ –၁ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့် ငါးနှစ်အတွက် အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

ဂဏန်း မူ ရင်း ဖြစ်သည့် မူ ရင်း ခန့် ခွဲ ရေး
ပြဿနာ လက်အမှတ် ၁/၉၇ ကို
လိုက်နာရမည်။

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌ သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်ကို ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသောရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့်အဆောက်အအုံ၊ထိုအဆောက်အအုံနှင့်အမြဲတွဲကပ်ထားသောပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကိုအငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

# အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉ ... ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေ ကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ... ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို ပယ်ဖျက်၍အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲကွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက် စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့် အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ အတွင်၌ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၂ ) ခုနှစ်၊ နိုဝင်ဘာ လ၊ ( ၂၇ ) ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှ ... ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လအတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို ... းစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် **ဦးစီးဌာနတံဆိပ်**ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ဒေါ်အေး ၇၆ သည် **ဤစာချုပ်ကိုအထက်၌**ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့-ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် **ဦးအုံးကျော်** တံဆိပ်

ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီးစိုးဝင်း

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး **ဦးထင်ဝေဦး** တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ**။

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) **ဦးကျော်ဝင်း**

အငှားစာချုပ်ရသူ ဒေါ်အေး၇၆ က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

**အသိသက်သေ**။

၁။ ရဲမျိုး လှိုင်းထိုက် ၁၂၊ ဒဂုံ ၇၃၇ ဟ

၂။ (အောင်ကိုဝင်း)

အထောက်အကူညွှန်ကြားရေးမှူး
မြေနှင့်အခွန် ဌာနခွဲ

**အထက်တွင် ရည်ညွှန်းထားသည့် ဇယား**

ခွင့်ပြုပြီးမြေပုံဖြစ်သော လုပ်ကွက်အမှတ်

မြေတိုင်းရပ်ကွက်အမှတ် ၂၇

ရန်ကုန်မြို့ ဒဂုံမြို့သစ်တောင်ပိုင်း မြို့နယ်။

အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ၇၅

ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၆၀' ပေ၊ အနံ ၁၂၀' ပေခန့်ရှိသော အလားအလာ

အရှေ့လားသော် လမ်း

အနောက်လားသော် မြေကွက်အမှတ် ၇၄

တောင်လားသော် မြေကွက်အမှတ် ၇၇

မြောက်လားသော် မြေကွက်အမှတ် ၇၃

အတွင်းရှိ မြေအားလုံး ဧရိယာ ၀.၁၆၅ ဧက၊ (စတုရန်းပေ ၇၂၀၀ )

ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ
အကံစ် - ၂၂

ဒဂုံ/တောင် ........ မြို့နယ် လူနေရပ်ကွက်အမှတ် ...[illegible]... 
မြေဝိုင်းရပ်ကွက်အမှတ် ...၂၃... မှမြေကွက်အမှတ် ...၇၉... ၏မြေပုံ- ၁

၁–လက်မလျှင် ၁၀၀ ပေနှုန်း




ရည်ညွှန်းချက်

....[redacted].ဧရိယာ

စတုရန်းပေ ....၇၂၀၀....

ဧက ....၀.၁၆၅....

မြေတိုင်း(၄) မြေတိုင်း(၃) မြေတိုင်း(၂)

ဦးစီးအရာရှိ
မြေတိုင်းဌာနခွဲ
မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန









# မြေငှားစာချုပ်

## မူရင်း

၁၉ ၉၇ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် ၃၈(စက်မှု) ၁၂၅၇/၉၇ အရ ထုတ်ပေးသည်။ 28 NOV 1997

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့် စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ဒဂုံကုန် မြို့နေ၊ ဦး စင်ကာကုမ္ပဏီ (ခ) ဦးမောင်ခိုင် ၏၊ သား/သမီး ဖြစ်သော ဦး သန်းထွန်း အမျိုးသားမှတ်ပုံတင်အမှတ် HLG-၀၀၈၃၆၂ ၏ ဦး သန်းလွင် PBJN-၀၀၈၆၇၆ (နောက်တွင် "အငှားစာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃ ၅၉ ခုနှစ်တန်ဆောင်မုန်း လဆန်း/လပြည့်ကျော် ၁၄ ရက်နေ့၊ ၁၉ ၉၇ ခုနှစ်၊ ( နိုဝင်ဘာ လ ၂၈ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်-ချုပ်ဆိုကြသည်။

အငှားစာချုပ်သူက-နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက် အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြား အခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကိုနှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်-ချုပ်ဆိုသည့် ၂၈.၁၁.၉၇ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၂ ခုနှစ် နိုဝင်ဘာ လ ၂၇ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၁၈၀ ပြား - ( ကျပ်တစ်ရာ့ရှစ်ဆယ် ) တိတိကို ဇန်နဝါရီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁-ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁-ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁-ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁-ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁-ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃-တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

စက်မှုဇုန်များ စီမံခန့်ခွဲရေး
ညွှန်ကြားချက်အမှတ် ၁/၉၇ ကို
လိုက်နာရမည်။

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထား[redacted]အဆောက်အအုံပေါ်၌ သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ့် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆-လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန် [redacted] [redacted] ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆော[redacted] ထိုလူနေ အိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။ [redacted]

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော[redacted]အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) [redacted]သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါ မြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) [redacted] စာဖြင့် [redacted]သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြား အတွင်းအဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊ အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆော[redacted] လူနေအိမ်ကို လူနေ[redacted]အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။ [redacted]

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၎င်းမြေ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်[redacted]အဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်း သင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက် တည်ရှိသည့် အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသောပစ္စည်းမပါဝင်စေဘဲ၊အဆိုပါမြေကွက်ကိုအငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂-အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ် ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၇ ခုနှစ် အတွင်းတွင် ဖြစ်စေ
ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၎င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေ ကျွန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန် ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကို ဖြစ်စေ၊ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူနိုင်ခွင့်ကို ဖြစ်စေ စွန့်လွှတ်ခဲ့မစေဘဲ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါ မြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့်နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက် စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ထို အဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၂ ) ခုနှစ်၊ ဒီဇင်ဘာ လ၊ ( ၂၇ ) ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လ အတွင်းနောင်နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကို ခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့် အဆိုပါ ဦးသန်းထွန်း ၊ ဦးသန်းမြင့် သည် ဤစာချုပ်ကိုအထက်၌ ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

မြို့ - ရန်ကုန်

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် **ဦးအုံးကျော်** တံဆိပ်

ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ဗိုလ်မှူးကြီးစိုးဝင်း

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး **ဦးတင်ဝင်း** တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) **ဦးကျော်ဝင်း**

အငှားစာချုပ်ရသူ ဦးသန်းထွန်း ၊ ဦးသန်းမြင့် က
လက်မှတ်ရေးထိုးသည်။

အငှားစာချုပ်ရသူ

**အသိသက်သေ။**

၁။ ၈/၁၄၀၇ ရန်မျိုးမင်းနိုင်၊ ၁၂၊ ၁၂၇ ရိပ်သာ

၂။ (ဒေါ်စန်းရီ)

**လက်ထောက်ညွှန်ကြားရေးမှူး**
**မြေနှင့်အခွန် ဌာနခွဲ**

**အထက်တွင် ရည်ညွှန်းထားသည့် ဇယား**

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ______
မြေတိုင်းရပ်ကွက်အမှတ် ၂၃
ရန်ကုန်မြို့ ဒဂုံမြို့သစ်တောင်ပိုင်း မြို့နယ်။
အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ၇၃
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ၆၀' ပေ၊ အနံ ၁၂၀' ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် လမ်း
အနောက်လားသော် မြေကွက်အမှတ် ၇၂
တောင်လားသော် မြေကွက်အမှတ် ၇၄
မြောက်လားသော် လမ်း
အတွင်းရှိ မြေအားလုံး ဧရိယာ ၀.၁၆၅ ဧက၊ (စတုရန်းပေ ၇၂၀၀ )

ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ

အကွက်စ - ၂၂

ဒဂုံ(မြောက်)......မြို့နယ် သုနေ ရပ်ကွက်အမှတ်......၁၈/၅(ရ)......

မြေတိုင်းရပ်ကွက်အမှတ်......၂၄......မှမြေကွက်အမှတ်......၃၄......၏မြေပုံ-

၁-လက်မလျှင် ၁၀၀ ပေအကား




ရည်ညွှန်းချက်

[redacted]ဧရိယာ

စတုရန်းပေ......၇၂၀၀......

ဧက......၀.၁၆၅......

မြေတိုင်း(၄)

မြေတိုင်း(၃)

မြေတိုင်း(၂)

ဦးစီးအရာရှိ

မြေတိုင်းဌာနခွဲ

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန